ရက်စွဲ။ ၂၂-၁-၂၀၂၀

VPower KC1 Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ တင်ပြခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ အပေါ်အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ တင်ပြလာခြင်း | ၁၅-၁-၂၀၂၀ | - | - |
| ၄ | အဆိုပြုချက်အား ကုမ္ပဏီမှ တင်ပြလာခြင်း | - | ၁၅-၁-၂၀၂၀ | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြခြင်း | ၃/၂၀၂၀ (၂၀-၁-၂၀၂၀) | | |
| ၆ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | (၂/၂၀၂၀) (၂၄-၁-၂၀၂၀) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၈ ရက် | | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် VPower KC1 Limited တည်ထောင်ပြီး IPP (BOT) စနစ်ဖြင့် ၂၀.၅၄ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချ ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - VPower KC1 Limited | | |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Lo Siu Yuen | | |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>VPower Myanmar KC1 Limited (ဟောင်ကောင်) ၁၀၀% | | |
| | လုပ်ငန်းအမျိုးအစား | - IPP (BOT) စနစ်ဖြင့် ၂၀.၅၄ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း | | |
| ၂။ | တည်နေရာ | - ကျွန်းချောင်းဓာတ်အားပေးစက်ရုံ၊ ကျွန်းချောင်းမြို့နယ်၊ မကွေးတိုင်းဒေသကြီး | | |
| ၃။ | မြေပိုင်ရှင် | - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်း | | |
| | မြေအကျယ်အဝန်း | - ၂ ဧက | | |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂,၀၂၃ | | |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၆ နှစ် | | |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅ နှစ် | | |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် | | |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၁၈.၁၅၅ သန်း | | |
| | **ထည့်ဝင်သည့်အမျိုးအစား** | **စုစုပေါင်း US$(သန်း)** | | |
| | ငွေသား | ၂.၇၈ | | |
| | စက်ပစ္စည်းတင်သွင်းမည့်ငွေသားတန်ဖိုး | ၁၅.၃၇ | | |
| | **စုစုပေါင်း** | **၁၈.၁၅၅** | | |
| ၇။ | ရောင်းချမည့်နည်းစနစ် | -ပြည်တွင်း ၁၀၀% | | |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | **ထုတ်လုပ်မည့်လျှပ်စစ်ဓာတ်အား (ကီလိုဝပ်နာရီသန်းပေါင်း)** | **တစ်ယူနစ်ဈေးနှုန်း(အခွန်မပါ) (US$)** | **ရရှိမည့်ဝင်ငွေ US$(သန်း)** |
| | | ၇၂.၁၈၈ | ၀.၀၂၄ | ၁၈.၅၅၂ |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>ဦးရေ — ၃၀ ဦး / ၅ ဦး<br>အမြင့်ဆုံးလစာ — US$ ၂၇၈ / US$ ၈၀၁<br>အနိမ့်ဆုံးလစာ — US$ ၁၂၇ / US$ ၆၆၀ |
| ၁၀။ | ငွေကြေးအထောက်အထား | -ငွေကြေးအထောက်အထားအဖြစ် VPower Group International Holdings Limited အမည်ဖြင့် ဟောင်ကောင်ရှိ Standard Chartered Bank (Central Branch) တွင် ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့ဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | CSR | - လူမှုရပ်ရွာ အကျိုးပြုမှုအစီအစဉ်အနေဖြင့် အသားတင် အမြတ်မှ ၂ % သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | အခြားတင်ပြချက်များ | - Consortium of VPower Group သည် ကျွန်းချောင်း (၂၀) မဂ္ဂဝါ်ပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းလုပ်ငန်းအား IPP(BOO) စနစ်ဖြင့် ဆောင်ရွက်ခွင့်အတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်း၊ တင်ဒါစိစစ်ရွေးချယ်ရေး ကော်မတီမှ စိစစ်ရွေးချယ်ထားသည့် တင်ဒါအောင်မြင်ပြီးသည့် ကုမ္ပဏီ ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- Consortium of VPower Group တွင် VPower Group Holdlings Ltd. နှင့် VPower Holdings Limited ကုမ္ပဏီများ ပါဝင်ပြီး ဟောင်ကောင်တွင် VPower Myanmar KC1 Limited အဖြစ် မှတ်ပုံတင်ထားကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရေးအတွက် Project Company အဖြစ် VPower KC1 Limited အမည်ဖြင့် မြန်မာနိုင်ငံတွင် ကုမ္ပဏီ ဖွဲ့စည်းမှတ်ပုံတင်ထားသည့် အထောက်အထား တင်ပြထားပါသည်။<br>- အဆိုပြု စီမံကိန်းအတွက် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါ အောင်မြင်သော Consortium of VPower Group ကုမ္ပဏီတို့အကြား လျှပ်စစ်ဓာတ်အား ဝယ်ယူရေး သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် နှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက် သွားနိုင်ရေးအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့သို့ သဘောထားမှတ်ချက် တောင်းခံထားကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of VPower Group Holdlings Ltd., VPower Holdings Limited တို့အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA) အား တင်ပြထားပါသည်။<br>- လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး လုပ်ငန်းနှင့် Consortium of VPower Group Holdings Ltd., VPower Holdings Limited တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေး စာချုပ် (Power Purchase Agreement) (မူကြမ်း)အား တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/ခ-၀၁၃/၂၀၂၀(၀၃၄ )

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၂၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် VPower KC1 Limited တည်ထောင်ပြီး IPP(BOO) စနစ်ဖြင့် ၂၀.၅၄ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အား ပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင်မှ VPower Myanmar KC1 Limited သည် မြန်မာနိုင်ငံတွင် VPower KC1 Limited တည်ထောင်ပြီး လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနပိုင် မကွေးတိုင်းဒေသကြီး၊ကျွန်းချောင်းမြို့နယ်၊ ကျွန်းချောင်းဓာတ်အားပေးစက်ရုံအတွင်းတွင် IPP (BOO) စနစ်ဖြင့် ၂၀.၅၄ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံ တည်ဆောက် ၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။ **နောက်ဆက်တွဲ-က**

၂။ အဆိုပြုချက်နှင့်အတူ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေး လုပ်ငန်းနှင့် Consortium of VPower Group Holdings Ltd., VPower Holdings Limited တို့အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA) နှင့်အတူ လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ်(မူကြမ်း)တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလနှင့် ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့် ကာလမှာ စီးပွားဖြစ်လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ လပေါင်း ၆၀ ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ တစ်နှစ် ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၈.၁၅၅ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စုစုပေါင်း(US$ သန်း) |
|---|---|
| ငွေသား | ၂.၇၈ |
| စက်ပစ္စည်းတင်သွင်းမည့် ငွေသားတန်ဖိုး | ၁၅.၃၇ |
| **စုစုပေါင်း** | **၁၈.၁၅၅** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း ၃၀ ဦး၊ ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၂၇ နှင့် အမြင့်ဆုံးလစာမှာ US$ ၂၇၈ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၆၆၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၈၀၇ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား (ပထမနှစ်) တွင် ကီလိုဝပ်နာရီသန်းပေါင်း ၇၂.၁၈၈ ထုတ်လုပ်မည်ဖြစ်ပြီး ဓာတ်အားခ တစ်ယူနစ်လျှင် US$ ၂.၅၇ cent နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၇။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of VPower Group Holdlings Ltd., VPower Holdings Limited တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူရေးစာချုပ် (မူကြမ်း) အားတင်ပြထားပါသည်။ အဆိုပါ စာချုပ် (မူကြမ်း) ပါ အဓိကအချက်အလက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) ကုမ္ပဏီသည် သဘာဝဓာတ်ငွေ့ပိုက်လိုင်းအသစ်နှင့် အပါအဝင် သဘာဝဓာတ်ငွေ့ထောက်ပံ့ပေးနိုင်ရေးအတွက် လိုအပ်သည့် အခြေခံအဆောက်အဦများအား တည်ဆောက်ရမည်ဖြစ်ပါသည်။ **အပိုဒ်-၃-၁(၃)**

(ခ) ကုမ္ပဏီသည် ကျွန်းချောင်းဓာတ်အားပေးစက်ရုံနှင့် ၆၆ ကေဗွီ ကျွန်းချောင်းဓာတ်အားခွဲရုံနှင့် ချိတ်ဆက်မည့် ၆၆ ကေဗွီ ဓာတ်အားလိုင်းအသစ်၊ ကျွန်းချောင်းဓာတ်အားပေးစက်ရုံ ဝင်း အတွင်းရှိ ၆၆ ကေဗွီ Switch Bay တို့အား တည်ဆောက်ရမည်ဖြစ်ပြီး သက်တမ်းကုန်ဆုံးပါက လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး လုပ်ငန်းသို့ လွှဲပြောင်းပေးရမည်။ **အပိုဒ်-၃-၁(၈)**

(ဂ) ကုမ္ပဏီမှမြေအသုံးပြုခအတွက် တစ်နှစ် တစ်ဧကလျှင် US$ ၂,၀၂၃ ပေးချေရမည်ဖြစ်ပါသည်။ **အပိုဒ်-၃-၁(၂၀)**

(ဃ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် capacity charges fuel charges and other payments ကို ပေးချေသည့်နေ့တွင် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ သတ်မှတ်သည့်ငွေလဲနှုန်းဖြင့် လစဉ်ပေးချေရမည်ဖြစ်ပါသည်။ **အပိုဒ်-၄(စ)**

(င) လျှပ်စစ်ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့်သက်တမ်းမှာ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အသက်ဝင်မည်ဖြစ်ပြီး စီးပွားဖြစ် လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ ဖျက်သိမ်းခြင်း သို့မဟုတ် တိုးချဲ့ခြင်းမဆောင်ရွက်ပါက လပေါင်း ၆၀ ဖြစ်သည်။ **အပိုဒ်-၆(က)**

၈။ ငွေကြေးအထောက်အထားအဖြစ် VPower Group International Holdings Limited မှ Standard Chartered Central Branch (Hong Kong) ၌ ၉-၁၀-၂၀၁၉ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃,၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းအား ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၂၀ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) တို့အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းမှ ဝန်ထမ်းများ လူမှုဖူလုံရေးနှင့် သက်သာချောင်ချိမှု ဆောင်ရွက်မည့် အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးအစီအစဉ်များနှင့် လူမှုရပ်ရွာ အကျိုးပြုမှု အစီအစဉ်အနေဖြင့် အသားတင်အမြတ်မှ ၂ % သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အဆိုပြုစီမံကိန်း၏ ဓာတ်အားပေးစက်ရုံ၊ အခြေခံ အဆောက်အအုံများနှင့် ဆက်စပ်သော စက်ပစ္စည်းများအား စီမံကိန်းပြီးဆုံးပါက ကုမ္ပဏီမှ ပိုင်ဆိုင်မည် ဖြစ်ကြောင်းနှင့် စက်ရုံဝင်းပြင်ပရှိ အသစ်တည်ဆောက်ထားသော ဓာတ်အားပေးစနစ်နှင့် transmission line အား EPGE သို့ အခမဲ့လွှဲပြောင်း ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် VPower Myanmar KC1 Limited မှ IPP (BOO) စနစ်ဖြင့် ၂၀.၅၄ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ MOEE- ၂ /(၁၅)/(င)/(VPower)( ၈၄၂ ) /၂၀၂၀

ရက်စွဲ ၊ ၂၀၂၀ ခုနှစ် ၊ ဇန်နဝါရီ လ ၁၅ ရက်

သို့

^ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ VPOWER KC1 LIMITED မှ ကျွန်းချောင်းတွင် အကောင်အထည်ဖော် ဆောင်ရွက်မည့် ဓာတ်အားပေးစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားခြင်းအား ထောက်ခံတင်ပြခြင်းကိစ္စ

၁။ ၂၀၂၀ ခုနှစ်၊ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် နိုင်ငံတော်၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို အချိန်မီဖြည့်ဆည်းပေးနိုင်ရန် ဓာတ်အားပေးစက်ရုံစီမံကိန်း(၅)ခုကို Independent Power Producer, Build Operate Own (IPP/BOO) စနစ်ဖြင့် (၅)နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဝယ်ယူနိုင်ရန်အတွက် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၂/၂၀၁၉)၏ သဘောတူ ဆုံးဖြတ်ချက်ဖြင့် ၂၈-၆-၂၀၁၉ ရက်မှစ၍ တင်ဒါခေါ်ဆိုဆောင်ရွက်ခဲ့ပါသည်။

၂။ အထက်ပါ စီမံကိန်း(၅)ခုအနက် ကျွန်းချောင်း (၂၀) မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် တစ်ယူနစ် စုစုပေါင်း ဈေးနှုန်းအနည်းဆုံးဖြင့် ဆောင်ရွက်မည့် The Consortium of VPower Group အား တင်ဒါအောင်မြင်သူအဖြစ် သတ်မှတ်၍ စီမံကိန်း စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေး Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင် ထုတ်ပေးခဲ့ပြီး အဆိုပါကုမ္ပဏီအဖွဲ့မှ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

၃။ ထို့အပြင် The Consortium of VPower Group သည် VPower Group Holdings Ltd. နှင့် VPower Holdings Ltd. ကုမ္ပဏီများဖြင့် ဖွဲ့စည်းထားပြီး၊ ဓာတ်အားဝယ်ယူရေး စာချုပ်ချုပ်ဆိုနိုင်ရေးနှင့် ဓာတ်အားပေးစက်ရုံတည်ဆောက်ခြင်း၊ မောင်းနှင်ခြင်းများ ဆောင်ရွက်နိုင်ရန်(၁၃-၁၁-၂၀၁၉)ရက်နေ့တွင် VPOWER KC1 LIMITED အမည်ဖြင့် Project Company တည်ထောင်ခဲ့ပါသည်။

၄။ ထို့နောက် အဆိုပါစီမံကိန်းအတွက် ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေး ဌာနနှင့် ကုမ္ပဏီတို့အကြား နှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များသို့ ပေးပို့၍ သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။ ယခုအခါ အဆိုပါဌာနများမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား

ကန့်သတ်

ပြန်လည်ပြင်ဆင်၍ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်များသို့ ဒုတိယအကြိမ် ပေးပို့၍ သဘောထားမှတ်ချက် ထပ်မံတောင်းခံထားပါသည်။

၅။ သို့ဖြစ်ပါ၍ VPOWER KC1 LIMITED မှ ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီ ဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက်။ VPOWER KC1 LIMITED ၏ ကျွန်းချောင်း ဓာတ်အားပေးစက်ရုံ စီမံကိန်းအတွက် အဆိုပြုတင်ပြချက် - (၁) အုပ်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/မျှောစာတွဲ